ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၂၉ /၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဩဂုတ် လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးအောင်ဇော်နိုင်

(ခ) အဘ အမည် ဦးအိုက်ထွန်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၂၅၇၅၈

(ဃ) နေရပ်လိပ်စာ အလုံတာဝါ၊ River View Garden Housing ၊ ကမ်းနားလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း Shwe Taung Development Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့် ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ Hotel, Service Apartment နှင့် Shopping Complex တည်ဆောက်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၃) နိုင်ငံတော် ကာကွယ်ရေး တက္ကသိုလ် နေရာဟောင်း နယ်မြေ(၂) ရှိ မြေ (၁၂.၆၀၄)ဧကအနက် မြေ(၈.၈၄၄)ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၀၁၉၀၈.၆၉(သန်း) (အမေရိကန်ဒေါ်လာ (၇၃.၂၅) သန်း အပါအဝင် စုစုပေါင်းကျပ် တစ်သိန်း တစ်ထောင့် ကိုးရာ ရှစ်သန်း နှင့် ခြောက်သိန်း ကိုးသောင်းခန့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၇၀ /၂၀၁၃ (မနသ)
၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၆ ရက်

၁။ Shwe Taung Development Co., Ltd. မှ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး ဒဂုံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၆၃)၊ နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ် နေရာဟောင်း နယ်မြေ(၂) ရှိ မြေ (၁၂.၆၀၄)ဧကအနက် မြေ(၈.၈၄၄)ဧကအား B.O.T စနစ်ဖြင့် ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ Hotel, Service Apartment နှင့် Shopping Complex တည်ဆောက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၅-၈-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Shwe Taung Development Co., Ltd အား B.O.T စနစ်ဖြင့် ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ Hotel, Service Apartment နှင့် Shopping Complex တည်ဆောက်ခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၉၂၉ /၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Shwe Taung Development Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်းကို စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၅)နှစ် အထိ ဝင်ငွေခွန်ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း

အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ယ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရား၊စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ) အရ လုပ်ငန်းတည်ဆောက်မှုပြီးစီး၍ ပထမသုံးနှစ်အတွက် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည) အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရား၊စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍

နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Shwe Taung Development Co., Ltd သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Shwe Taung Development Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ ကာကွယ်ရေးဝန်ကြီးဌာန၊ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး နှင့် Shwe Taung Development Co., Ltd. တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ အတည်ပြုပြီးဖြစ်သော မြေငှားစာချုပ်ပါ စည်းမျဉ်း စည်းကမ်းများ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ကာကွယ်ရေးဝန်ကြီးဌာန၊ ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း) စစ်ထောက်ချုပ်ရုံးနှင့် Shwe Taung Development Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေး ဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ(၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦး (၅၀)နှစ် နှင့် ကော်မရှင်မှသဘောတူပါက (၁၀)နှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်ငှားရမ်းရမည်။

၉။ Shwe Taung Development Co., Ltd. သည် ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း) စစ်ထောက်ချုပ်ရုံးသို့ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် အမေရိကန် ဒေါ်လာ (၂.၀၀)သန်းနှုန်းဖြင့် မြေ(၁၂.၆၀၄)ဧကအတွက် အမေရိကန်ဒေါ်လာ(၂၅.၂၀၈)သန်းကို အောက်ပါ အတိုင်း ပေးချေရမည်-

(က) စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လ အတွင်း ပထမအကြိမ် ၂၅ %

(ခ) စာချုပ် လက်မှတ်ရေးထိုးပြီး ရှစ်လ အတွင်း ဒုတိယအကြိမ် ၂၅ %

(ဂ) စာချုပ် လက်မှတ်ရေးထိုးပြီး တစ်ဆယ့်ခြောက်လအတွင်း တတိယအကြိမ် ၂၅ %

(ဃ) စာချုပ် လက်မှတ်ရေးထိုးပြီး နှစ်ဆယ့်လေးလ အတွင်း စတုတ္ထအကြိမ် ၂၅ %

၁၀။ Shwe Taung Development Co., Ltd. သည် နှစ်စဉ်မြေငှားရမ်းခ အဖြစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ(၁၅)နှုန်းဖြင့် တစ်ဖက်ပါအတိုင်း ငှားရမ်းခများ ကို နှစ်စဉ်ပေးချေရမည်-

(က) ပထမ(၂)နှစ်အတွက် အဆောက်အဦ ကြမ်းခင်းဧရိယာ (၃၈၅၀၀ စ/မီတာ)၏တစ်နှစ်ငှားရမ်းခ အမေရိကန်ဒေါ်လာ ၅.၇၇ သိန်းကိုလည်းကောင်း၊

(ခ) ဒုတိယ(၂)နှစ်အတွက် အဆောက်အဦ ကြမ်းခင်းဧရိယာ (၄၇၃၀၀စ/မီတာ)၏တစ်နှစ်ငှားရမ်းခ အမေရိကန်ဒေါ်လာ ၇.၀၉ သိန်း နှင့် အဆောက်အဦ ကြမ်းခင်း ဧရိယာ (၃၈၅၀၀စ/မီတာ)၏ တစ်နှစ်ငှားရမ်းခ အမေရိကန်ဒေါ်လာ ၅.၇၇ သိန်း၊ စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၂.၈၇ သိန်း ကိုလည်းကောင်း၊

(ဂ) ကျန်နှစ်များအတွက် အဆောက်အဦ ကြမ်းခင်းဧရိယာ (၇၉၁၅၀ စ/မီတာ)၏ တစ်နှစ်ငှားရမ်းခ အမေရိကန်ဒေါ်လာ ၁၁.၈၇ သိန်းနှင့်အမေရိကန်ဒေါ်လာ ၁၂.၈၇သိန်း၊ စုစုပေါင်း အမေရိကန်ဒေါ်လာ ၂၄.၇၄ သိန်းကိုလည်းကောင်း၊ နှစ်စဉ် ပေးသွင်းရမည်ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခ ပေးသွင်းခြင်းအား နိုင်ငံခြားငွေ လဲလှယ်နှုန်း ပြောင်းလဲမှုရှိပါကပထမ(၂)နှစ်အတွက် မြန်မာကျပ်ငွေ(၄၇၉.၃၂)သန်းနှင့် ညီမျှသောနိုင်ငံခြားငွေကို လည်းကောင်း၊ ဒုတိယ(၂)နှစ်အတွက် မြန်မာကျပ်ငွေ(၁၀၆၈.၂၁)သန်းနှင့် ညီမျှသော နိုင်ငံခြားငွေကို လည်းကောင်း၊ ကျန်နှစ်များအတွက်မြန်မာကျပ်ငွေ(၂၀၅၃.၆၃)သန်းနှင့် ညီမျှသော နိုင်ငံခြားငွေကို လည်းကောင်း ပေးသွင်းရမည်။

၁၁။ မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်ပြီး ငှားရမ်းခ ထပ်မံတိုးမြှင့်လိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၅ % ထက် မကျော်လွန်စေရ။

၁၂။ Shwe Taung Development Co., Ltd. သည် မြေငှားစာချုပ် သက်တမ်း ကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ (၃)လ အတွင်း ဆောက်လုပ်ထားသော အဆောက်အဦ နှင့် ပစ္စည်းများအားလုံး မည်သည့်အဖိုးစားနားမျှ မပါရှိဘဲ ကောင်းမွန်သော အနေအထားအတိုင်း ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း) စစ်ထောက် ချုပ်ရုံးသို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။ သို့ရာတွင် အဆိုပြုလုပ်ငန်းနှင့် မြေပေါ်တွင် အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့သည့် အဆောက်အဦတွင် တပ်ဆင်ထားသည့် (Fixture) မှအပ ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများအားလုံးကို ယူဆောင်သွားခြင်းပြုနိုင်သည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ Shwe Taung Development Co., Ltd. သည် အဆောက်အဦ ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်း လိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။ ထို့ပြင် Shwe Taung Development Co., Ltd. သည် ကုမ္ပဏီမှ တည်ဆောက်မည့် ဟိုတယ် အဆောက်အဦ၊ Service Apartment နှင့် Shopping Complex တို့နှင့် စပ်လျဉ်း၍ တွက်ချက်ရေးဆွဲထားသော ခန့်မှန်းခြေ အသေးစိတ် စာရင်းဇယားများ နှင့် အသေးစိတ်ပုံစံများကို ရန်ကုန်မြို့မပြော် စည်ပင်သာယာရေး ကော်မတီ နှင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း တို့၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၅။ Shwe Taung Development Co., Ltd. သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြ စီမံကိန်းနှင့် ကိုက်ညီစေရေးအတွက်လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၆။ Shwe Taung Development Co., Ltd. သည် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၁၀)၊ အပိုဒ် ၁၉(ဂ) ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၇။ Shwe Taung Development Co., Ltd. သည် ဤ ခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက် ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ Shwe Taung Development Co., Ltd. သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၃)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်

စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၀။ Shwe Taung Development Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ-၁၃၁၁/၂၀၁၃(၉၆၅၁ - ၉)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေး ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

ဥက္ကဋ္ဌ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ဥက္ကဋ္ဌ၊ အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့ (CQHP)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

## ကန့်သတ်

၈

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားလာရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ ရန်ကုန်မြို့

မန်နေဂျင်း ဒါရိုက်တာ၊ Shwe Taung Development Co., Ltd.